ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၀၇၄ / ၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၂၀ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးဆောင်ညွှန်ကြားရေးမှူး

(ခ) **အဘအမည်** အမှတ်(၁) သတ္တုတွင်းလုပ်ငန်း

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** -

(ဃ) **နေရပ်လိပ်စာ** ရုံးအမှတ်(၁၉)၊ သတ္တုတွင်းဝန်ကြီးဌာန၊ နေပြည်တော်

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** SAN LIN INTERNATIONAL EXPORT AND IMPORT COMPANY LIMITED (ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် သံသတ္တု အကြီးစားတူးဖော်ထုတ်လုပ်၍ သန့်စင်ပြီးသံသတ္တု (Concentrated Iron) များရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ချီဖွေမြို့နယ်၊ ဖီမော်ကျေးရွာအုပ်စု၊ လုနော့ဂျန်သတ္တုလုပ်ကွက် မြေဧရိယာ (၁၉၈) ဧက (၀.၈၀၁၃ စတုရန်းကီလိုမီတာ)

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၂၄၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၁.၉၉၇ သန်း အပါအဝင် စုစုပေါင်းကျပ်သန်း နှစ်ထောင့်လေးရာတိတိ)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၆၃ /၂၀၁၅ (မနသ)

၂၀၁၅ ခုနှစ် ဩဂုတ်လ ၂၆ ရက်

၁။ အမှတ်(၁) သတ္တုတွင်းလုပ်ငန်းနှင့် မြန်မာကုမ္ပဏီဖြစ်သော San Lin International Export and Import Co., Ltd. (ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီ လီမိတက်) တို့သည် ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ချီဖွေမြို့နယ်၊ ဖိမော်ကျေးရွာအုပ်စု၊ လုနော့ဂျန်သတ္တုလုပ်ကွက် မြေဧရိယာ ၁၉၈ ဧက (၀.၈၀၁၃ စတုရန်းကီလိုမီတာ)တွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် သံသတ္တုအကြီးစား တူးဖော်ထုတ်လုပ်၍ သန့်စင်ပြီး သံသတ္တု (Concentrated Iron) များ ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သတ္တုတွင်းဝန်ကြီးဌာနမှ တင်ပြလာသည့် အဆိုပြုချက် အား ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၇ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၄/၂၀၁၅) အစည်းအဝေး၌ တင်ပြခဲ့ရာခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် အမှတ်(၁) သတ္တုတွင်းလုပ်ငန်းနှင့် San Lin International Export and Import Co., Ltd. တို့အား ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် သံသတ္တု အကြီးစားတူးဖော်ထုတ်လုပ်၍ သန့်စင်ပြီး သံသတ္တု(Concentrated Iron) များ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၀၇၄ /၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ San Lin International Export and Import Co., Ltd.(ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီ လီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် သံသတ္တုသန့်စင်အကြီးစား တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် အောက်ဖော်ပြပါအခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ကုန်ထုတ်လုပ်ငန်း သို့မဟုတ် ဝန်ဆောင်မှု လုပ်ငန်းတစ်ခုခု စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန် အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီး မြှုပ်နှံလျှင် ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်

ခံစား နိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဥ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဈ)အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ပြုသည်။

၃။ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ၊ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာအသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ San Lin International Export and Import Co., Ltd.(ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှုနှင့်ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ San Lin International Export and Import Co., Ltd. (ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီ လီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၁)သတ္တုတွင်းလုပ်ငန်းနှင့် San Lin International Export and Import Co., Ltd.(ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီ

လီမိတက်)တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုပြီးဖြစ်သော သံသတ္တုအကြီးစား ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့် လုပ်ငန်းသဘောတူ စာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ကြရမည်။

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၁) သတ္တုတွင်းလုပ်ငန်းနှင့် San Lin International Export and Import Co., Ltd. (ဆန်းလင်း အင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီ လီမိတက်)တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှအတည်ပြုပြီးဖြစ်သော သံသတ္တုအကြီးစား ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် လုပ်ငန်းသဘောတူစာချုပ် လက်မှတ်ရေးထိုးပြီး သည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ ၅ စောင် ကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြ ရမည်။

၈။ သံသတ္တုများ ထုတ်လုပ်ခွင့်ပြုသည့်ကာလမှာ စာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (၁၅)နှစ် ဖြစ်ပြီး နောက်ထပ်သက်တမ်းတိုးမြှင့်ခွင့်အတွက် အမှတ် (၁) သတ္တုတွင်းလုပ်ငန်း မှတဆင့် သတ္တုတွင်းဝန်ကြီးဌာနသို့ လျှောက်ထားရမည်။

၉။ San Lin International Export and Import Co., Ltd. (ဆန်းလင်းအင်တာ နေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီလီမိတက်)သည် လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်ကို နိုင်ငံတော်အစိုးရမှ စီမံကိန်းတစ်ခုခုတွင် အသုံးပြုရန်လိုအပ်ခဲ့လျှင် ကန်ထရိုက်တာဖြစ်သူ (ကုမ္ပဏီ) က မိမိလက်ဝယ်ရယူထားသော လုပ်ကွက်ကို အစိုးရသို့ ပြန်လည် အပ်နှံရမည်ဖြစ်ပြီး သင့်လျော် သော သတ္တုလုပ်ကွက်ကို ကန်ထရိုက်တာ(ကုမ္ပဏီ) နစ်နာမှုမရှိစေရန် နှစ်ဦးနှစ်ဖက် ညှိနှိုင်း ဆောင်ရွက်ရမည်။

၁၀။ San Lin International Export and Import Co., Ltd. (ဆန်းလင်းအင်တာ နေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီ လီမိတက်)သည် လုပ်ကွက်အဆိုပြုငွေ ကျပ်သိန်း ၂၄၀ (ကျပ်သိန်း နှစ်ရာ့လေးဆယ်တိတိ)ကို လုပ်ငန်းသဘောတူစာချုပ် လက်မှတ်ရေးထိုးသည့် နေ့ရက်တွင် အမှတ် (၁) သတ္တုတွင်းလုပ်ငန်းသို့ ပေးသွင်းရမည်။

၁၁။ San Lin International Export and Import Co., Ltd. (ဆန်းလင်းအင်တာ နေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီ လီမိတက်)သည် အာမခံစပေါ်ငွေ ကျပ် သိန်း ၄၈၀ (ကျပ်သိန်း လေးရာ့ရှစ်ဆယ်တိတိ) ကို စာချုပ်လက်မှတ်ရေးထိုးပြီး ရက်ပေါင်း ၃၀ အတွင်း နေပြည်တော် မြန်မာ့စီးပွားရေးဘဏ်တွင် သတလ(၁)ငွေစာရင်းအမှတ် CF001074 သို့ ပေးသွင်းပြီး လုပ်ငန်း သဘောတူစာချုပ်သက်တမ်းတစ်လျှောက် ထားရှိရမည်။

၁၂။ San Lin International Export and Import Co., Ltd. (ဆန်းလင်းအင်တာ နေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီ လီမိတက်)မှ ပုံသေမြေငှားရမ်းခ (Dead Rent) အဖြစ် ထုတ်လုပ်မှုကာလ တစ်နှစ်လျှင် တစ်စတုရန်းကီလိုမီတာအတွက် ကျပ်သိန်း ၃၀.၀၀ နှုန်းဖြင့် သတ္တုတွင်းဝန်ကြီးဌာန၊ သတ္တုတွင်းဦးစီးဌာနသို့ ပေးဆောင်ရမည်။

၁၃။ ထုတ်လုပ်ရရှိသော သံသတ္တုတန်ချိန် စုစုပေါင်း၏ ၄ ရာခိုင်နှုန်းကို ဓါတ်သတ္တုခွန်အဖြစ် နိုင်ငံတော်သို့ပေးသွင်းပြီး ကျန်ရှိသော သံသတ္တုတန်ချိန် ၉၆ ရာခိုင်နှုန်းကို အောက်ပါအတိုင်း လစဉ် ခွဲဝေခံစားရမည်-

- အမှတ်(၁)သတ္တုတွင်းလုပ်ငန်း ၃၀ ရာခိုင်နှုန်း
- San Lin International Export and Import Co., Ltd.

(ဆန်းလင်းအင်တာနေရှင်နယ်အိတ်(စ်)ပို့အင်(န်)အင်ပို့ကုမ္ပဏီလီမိတက်) ၇၀ ရာခိုင်နှုန်း

၁၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၅။ San Lin International Export and Import Co., Ltd. (ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း နှင့် လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Assessment - ESIA) အစီရင်ခံစာ ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၆။ San Lin International Export and Import Co., Ltd. (ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ်မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့်မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေးအစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ ဥပဒေများ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၁၇။ San Lin International Export and Import Co., Ltd. (ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများခန့်ထားရာတွင် အလုပ်သမား အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေး နှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၈။ San Lin International Export and Import Co., Ltd. (ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်

များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိဆောင်ရွက်ရမည်။ ထို့အပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၉။ San Lin International Export and Import Co., Ltd. (ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီ လီမိတက်)သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကိုလည်း သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (သုံး)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး၏ (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်းနေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက် ရယူရမည်။

၂၁။ San Lin International Export and Import Co., Ltd. (ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှုမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည့်အထိ အရေးယူခြင်းခံရမည်။

၂၂။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့်နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့်ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း ရောင်းချခြင်း မပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှတင်သွင်းသည့်ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င) အရ

နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စီးပွားရေးလုပ်ငန်း စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၅ (သ)/ ၀၀၃ /၂၀၁၅( ၂၅၉ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဩဂုတ် လ ၂၀ ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

သတ္တုတွင်းဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ကချင်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မြစ်ကြီးနားမြို့

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၁) သတ္တုတွင်းလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

မန်နေဂျင်းဒါရိုက်တာ၊ San Lin International Export and Import Co., Ltd. (ဆန်းလင်းအင်တာနေရှင်နယ် အိတ်(စ်)ပို့ အင်(န်) အင်ပို့ ကုမ္ပဏီ လီမိတက်)